




၇။ **ကုန်ကျစရိတ်နှင့် ငွေကြေးပေးသွင်းခြင်း**

(က) **ကနဦးကုန်ကျစရိတ်**

(၁) "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ပိုင် MRTV Multi Channel Playout System တွင် ရုပ်သံလိုင်း(၅)လိုင်းအား Content Provider အဖြစ် ဆောင်ရွက်ခွင့်ရရှိသည့် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" များက မြန်မာ့အသံနှင့်ရုပ်မြင်သံကြား (ရန်ကုန်) နှင့် (တပ်ကုန်း) 9 Meter Earth Station များတွင် လိုအပ်သည့် စက်ပစ္စည်းများအား ကနဦးကုန်ကျစရိတ်အဖြစ် အချိုးကျတွက်ချက်၍ စုပေါင်းတပ်ဆင်ရမည်။

(၂) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" များ၏ ရုပ်သံအစီအစဉ်များအား မြန်မာ့အသံနှင့် ရုပ်မြင်သံကြား(တပ်ကုန်း)သို့ ပေးပို့နိုင်ရေး လိုအပ်သည့် စက်ပစ္စည်းများအား ဝယ်ယူတပ်ဆင် ဆောင်ရွက်ရန်အတွက် တင်ဒါခေါ်ယူခြင်း၊ အရည်အသွေး ကြပ်မတ်စစ်ဆေးခြင်းများကို "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" က ဦးစီးဆောင်ရွက်ရန်နှင့် ဈေးနှုန်းစိစစ်ခြင်း၊ စက်ပစ္စည်းများနှင့် ငွေကြေးတန်ဖိုး ပေးချေခြင်းများအား "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က ဆောင်ရွက်ရမည်။

(၃) MRTV Multi Channel Playout System တွင် ရုပ်သံလိုင်း(၅)လိုင်းအား Content Provider အဖြစ် ရွေးချယ်ဆောင်ရွက်သည့် လုပ်ငန်းစဉ်တစ်ခုလုံး၏ Professional Consultant Fees ငှားရမ်းကုန်ကျစရိတ် ငွေ သိန်း(၄၀၀)ကျပ်တိတိအတွက် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" တစ်ဦးလျှင် ငွေ သိန်း(၈၀)ကျပ်တိတိအား ကျခံပေးသွင်းရမည်။

(ခ) **နှစ်စဉ်ကြေးကုန်ကျစရိတ်**

(၁) မြန်မာ့အသံနှင့်ရုပ်မြင်သံကြား(တပ်ကုန်း)သို့ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" များ၏ ရုပ်သံအစီအစဉ်များပေးပို့ရန်အတွက် လိုအပ်သည့် Thaicom-6 ဂြိုဟ်တုဆက်ကြောင်းမှ 5 $MH_Z$ Transponder Bandwidth နှစ်စဉ် ငှားရမ်းခ ကုန်ကျစရိတ် အမေရိကန်ဒေါ်လာ (၂၇၀၀၀၀)တိတိ အတွက် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" တစ်ဦးလျှင် အချိုးကျ ကုန်ကျစရိတ် အမေရိကန်ဒေါ်လာ (၅၄၀၀၀)တိတိအား နှစ်စဉ်ကြေး ကုန်ကျစရိတ်အဖြစ် ပေးသွင်းရမည်။

(၂) အထက်အပိုဒ်ခွဲ (ခ) (၁) ပါ ဂြိုဟ်တုဆက်ကြောင်း အချိုးကျငှားရမ်းခသည် နှစ်စဉ်ပြောင်းလဲမှုရှိနိုင်သဖြင့် ငွေကြေးပမာဏ ပြောင်းလဲမှုရှိပါက "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" နှင့် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" တို့မှ ညှိနှိုင်းပြီး ကျသင့်ငွေအား ပေးသွင်းရမည်။

(၃) "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" သည် ဂြိုဟ်တုဆက်ကြောင်းငှားရမ်းမှု သက်တမ်းကုန်ဆုံးချိန်တွင် အကြောင်းအမျိုးမျိုးကြောင့် ဂြိုဟ်တုပြောင်းလဲ ငှားရမ်းသုံးစွဲပါက ယင်းသို့ ပြောင်းလဲငှားရမ်းသည့် ဂြိုဟ်တု၏ ဆက်ကြောင်းငှားရမ်းခ ငွေကြေး၏ Bandwidth အသုံးပြုမှု အချိုးကျကုန်ကျမှုအတိုင်း "လုပ်ငန်းဆောင်ရွက်ခွင့် ရရှိသူ" က ပေးသွင်းရမည်။






(၄) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် မိမိ ဆောင်ရွက်နေသည့် ရုပ်သံလိုင်း ထုတ်လွှင့်ခြင်းအတွက် အထက်အပိုဒ်ခွဲ (က) နှင့် (ခ)တို့ပါ ကနဦး ကုန်ကျစရိတ်နှင့် နှစ်စဉ်ကြေး ကုန်ကျစရိတ်များအတိုင်း Content Provider အဖြစ် စတင်ထည့်သွင်းထုတ်လွှင့်သည့်နေ့မှစ၍ စတင်ပေးသွင်းရမည်ဖြစ်ပြီး အကြောင်းအမျိုးမျိုးကြောင့် လုပ်ငန်းဆက်လက်မဆောင်ရွက်တော့ပါက ပြန်လည်ထုတ်ယူခွင့် မရှိကြောင်း မှတ်ယူရမည်။

**(ဂ) ရုပ်သံလိုင်းထည့်သွင်းပြသခ၊ လစဉ်ကြေးကုန်ကျစရိတ်**

"လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ၏ MRTV Multi Channel Playout System တွင် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" မှ Digital Free to Air ရုပ်သံလိုင်းအသစ် (၁)လိုင်းအား Content Provider အဖြစ် ထည့်သွင်းပြသခြင်းအတွက် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ထံသို့ တစ်လလျှင် ရုပ်သံလိုင်းထည့်သွင်းပြသခ **သိန်း(၂၀၀) ကျပ်တိတိအား** လစဉ်ကြေး ကုန်ကျစရိတ်အဖြစ် ပေးသွင်းရမည်။

**(ဃ) ငွေပေးသွင်းခြင်း**

(၁) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် အထက်အပိုဒ်ခွဲ(ဂ)ပါ ပေးသွင်းရမည့် ငွေများအား Content Provider အဖြစ် စတင်ထည့်သွင်းထုတ်လွှင့်သည့် နေ့မှစ၍ (၃)လ ပြည့်မြောက်ပြီးတိုင်း နောက်လာမည့် စတုတ္ထမြောက်လ၏ လဆန်း (၁၅) ရက် အတွင်း ပေးသွင်းရမည်။ ၎င်းရက်အတွင်း ပေးသွင်းနိုင်ခြင်းမရှိပါက တစ်လလျှင် ပေးသွင်းရမည့်ငွေပမာဏ၏ လစဉ်(၁%)နှုန်းဖြင့် ဒဏ်ကြေးအဖြစ် တွက်ချက် ပေးသွင်းရမည်။

(၂) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် အထက်အပိုဒ်ခွဲ (ဂ) ပါ လစဉ်ပေးသွင်းရမည့် ငွေကြေးပမာဏကို ယပ်မှတ်ကာလအတွင်း ပေးသွင်းရမည်။ ငွေပေးလွှင်းရန် ကာလကို (၃)လတစ်ကြိမ် သတ်မှတ်သည်။ သို့ရာတွင် ပေးသွင်းရမည့် ကာလသည် ဘဏ္ဍာရေးနှစ် ကုန်ဆုံးမည့်လတွင်ဖြစ်နေပါက ဘဏ္ဍာရေးနှစ် မကုန်ဆုံးမီ ပေးသွင်းနိုင်ရန် ဆောင်ရွက်ရမည်။

(၃) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" မှ ဤသဘောတူ စာချုပ်အရ "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" သို့ အထက်အပိုဒ်ခွဲ(ဂ)ပါ ပေးသွင်းရန်ရှိသော ငွေကြေးများကို (၃)လ တစ်ကြိမ်ဖြင့် နှစ်ကြိမ်ဆက်တိုက် ပေးသွင်းရန် ပျက်ကွက်ခဲ့လျှင် ပြန်ကြားရေးဝန်ကြီးဌာနသို့ တင်ပြပြီး လိုအပ်သလို အရေးယူဆောင်ရွက်မှုများ ပြုလုပ်နိုင်သည်။




(၄) စာချုပ်စတင်အကျိုးသက်ရောက်သည့် နေ့မှစ၍ (၂)နှစ်ပြည့်မြောက်ပြီးနောက်တွင် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" ၏ ရုပ်သံလိုင်းအား ထည့်သွင်းထုတ်လွှင့်ခြင်းအတွက် ပေးသွင်းသည့် နှုန်းထားကို Review ပြုလုပ်၍ ပြန်လည်သတ်မှတ်မည်။

(၅) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် လုပ်ငန်းများအား အကြောင်းအမျိုးမျိုးကြောင့် ဆက်လက်ဆောင်ရွက်ခြင်းမပြုခဲ့လျှင် မိမိ ထုတ်လွှင့်ပြသခဲ့သည့် ကာလအထိ ရုပ်သံလိုင်းထည့်သွင်းပြသခ ငွေကြေးနှင့် ဒဏ်ကြေးရှိပါက ဒဏ်ကြေးတို့ကို အပြီးပေးသွင်းရမည်။

၈။ **လုပ်ငန်းညှိနှိုင်းဆွေးနွေးခြင်း**

"လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ၏ DVB-T2 စနစ်ဖြင့် ထုတ်လွှင့်သော MRTV Multi Channel Playout System တွင် ထည့်သွင်းထုတ်လွှင့်ခြင်းအတွက် လုပ်ငန်းဆောင်ရွက်ချက်များ တိုးချဲ့ခြင်း၊ ရပ်ဆိုင်းခြင်းနှင့် အခြားကိစ္စများ ဆောင်ရွက်လိုပါက ရက်ပေါင်း(၉၀) ကြိုတင်၍ စာဖြင့်ရေးသားတင်ပြပြီး ဆောင်ရွက်လိုသည့် အကြောင်းအရာကို "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" နှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ **အာမခံခြင်း**

စာချုပ်ဝင် အသီးသီးသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးရန်အလို့ငှာ ငွေကြေးအင်အား ပြည့်စုံပြီး လုပ်ပိုင်ခွင့်အာဏာ ရှိသူများဖြစ်ကြောင်း၊ သက်ဆိုင်ရာ ဥပဒေများနှင့်အညီ တရားဝင်ရပ်တည်နိုင်သူများဖြစ်ကြောင်း အာမခံကြပါသည်။

၁၀။ **ဆောင်ရွက်မည့်ဥပဒေ**

ဤစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၏ တည်ဆဲဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ ဤစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၁၁။ **အခြားစည်းကမ်းချက်များ**

(က) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် မိမိရုပ်သံအစီအစဉ်များ ထုတ်လွှင့်ပြသရာတွင် ရုပ်သံအစီအစဉ်များ၏ ဘာသာစကားသည် မြန်မာနိုင်ငံပြည်သူလူထု (၇၀)% မှ သိရှိနားလည်နိုင်သော ဘာသာစကားဖြစ်ရန်နှင့် မြန်မာ့အသံနှင့်ရုပ်မြင်သံကြား၏ ထုတ်လွှင့်ရေးဆိုင်ရာ အခြေခံအဆောက်အဦများကို အသုံးပြု၍ ရုပ်မြင်သံကြားနှင့် အသံထုတ်လွှင့်ခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့်သူများ လိုက်နာရမည့် ကျင့်ဝတ်များနှင့် ညီညွတ်သည့် အစီအစဉ်ဖြစ်ရန် ဆောင်ရွက်ရမည်။




(ခ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် မိမိအဆိုပြုတင်သွင်းခဲ့သည့် Request For Proposal (RFP) တွင်ပါဝင်သည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်များ၊ လုပ်ငန်းစဉ်များအား စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၁)နှစ်အတွင်း အကောင်အထည်ဖော်ဆောင်ရွက်ရမည်ဖြစ်ပြီး လိုက်နာဆောင်ရွက်မှု မရှိပါက ဤစာချုပ်ပါ လုပ်ငန်းအား ရပ်ဆိုင်းမည်။

(ဂ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် မိမိထုတ်လွှင့်ပြသလျက်ရှိသော Free to Air ရုပ်သံလိုင်းအမည်ကို လုပ်ငန်းအခြေအနေအရ အခြား Free to Air ရုပ်သံလိုင်း အမည်ဖြင့် အစားထိုး ပြောင်းလဲရန်လိုပါက ထိုသို့ပြောင်းလဲ ထုတ်လွှင့်ပြသနိုင်ရန်အတွက် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" နှင့် ညှိနှိုင်းဆောင်ရွက်နိုင်ပြီး ထုတ်လွှင့်ပြသခြင်းမှ ရပ်နားလိုလျှင် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" သို့ (၉၀)ရက် ကြိုတင် အကြောင်းကြားပြီး "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ၏ သဘောတူညီချက်ဖြင့် ဆောင်ရွက်နိုင်သည်။

(ဃ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် ရုပ်မြင်သံကြားနှင့်အသံလွှင့်ကောင်စီမှ လိုင်စင်လျှောက်ထားခြင်းဆိုင်ရာ လုပ်ငန်းစဉ်နှင့် လုပ်ထုံး/လုပ်နည်းများကို ရေးဆွဲထုတ်ပြန်သည့်နေ့ရက်မှ ရက်ပေါင်း(၉၀)အတွင်း ဥပဒေနှင့်အညီ ရုပ်မြင်သံကြားနှင့်အသံလွှင့်လိုင်စင်ကို ကောင်စီသို့လျှောက်ထားရမည်ဖြစ်ပြီး ကောင်စီမှခွင့်ပြုပါက ရုပ်သံထုတ်လွှင့်ခြင်းလုပ်ငန်းအား ဆက်လက်ဆောင်ရွက်နိုင်သည်။ သို့ရာတွင် ကောင်စီက ခွင့်ပြုခြင်းမရှိပါက ဆက်လက်ဆောင်ရွက်နိုင်ခြင်း မရှိဟု မှတ်ယူရမည်။

(င) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် ရုပ်မြင်သံကြားနှင့်အသံလွှင့်ကောင်စီမှ ရုပ်သံထုတ်လွှင့်ခွင့် လိုင်စင်ရရှိပြီးချိန်တွင် ရုပ်သံထုတ်လွှင့်ခြင်းလုပ်ငန်းအား ရုပ်မြင်သံကြားနှင့် အသံထုတ်လွှင့်ခြင်းဥပဒေနှင့်အညီ မိမိကြိုက်နှစ်သက်ရာ Network Provider နှင့် ဆက်သွယ်ဆောင်ရွက် ထုတ်လွှင့်နိုင်သည်။

(စ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" ၏ ပေါ့လျော့မှု၊ ပျက်ကွက်မှု၊ ပြုလုပ်မှု၊ လိမ်လည်မှု စသည်တို့ကြောင့် ပူးပေါင်းဆောင်ရွက်ခြင်း လုပ်ငန်းတွင် ဆုံးရှုံးမှုအဝဝကို ကျူးလွန်သူ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က ပေးလျော်ရမည်။

၁၂။ **စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

ဤစာချုပ်သည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ စာချုပ်စတင် အကျိုးသက်ရောက်စေရမည်။

၁၃။ **စာချုပ်သက်တမ်း**

ဤစာချုပ်၏ သက်တမ်းမှာ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" မှ ရုပ်မြင်သံကြားနှင့်အသံထုတ်လွှင့်ခြင်းဆိုင်ရာ ဥပဒေနှင့်အညီ လိုင်စင်လျှောက်ထားပြီး ဥပဒေအရ ကောင်စီမှ လိုင်စင်လုပ်ကိုင်ခွင့်များ စတင်ချထားပေးချိန်အထိဖြစ်သည်။







၁၄။ **မလွန်ဆန်နိုင်သောဖြစ်ရပ်**

(က) ဤစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ မထမ်းဆောင်နိုင်လျှင် ထိုသို့ မထမ်းဆောင်နိုင်သူ စာချုပ်ဝင်က အခြားစာချုပ်ဝင်သို့(၁၅)ရက်အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်ကြောင်းကို အသေးစိတ် စာဖြင့်ရေးသား အကြောင်းကြားရမည်။ အခြားစာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မပြောက်ပြီး တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်နေစဉ် ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှ တာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ- သဘာဝဘေးအန္တရာယ်များ၊ ငလျင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်း၊ အကြမ်းဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး စာချုပ်ဝင်၏ ထိုက်သင့်သော ဂရုပြုမှု၊ ဖွဲ့၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲ ကျော်လွှားရန် မစွမ်းဆောင်နိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၅။ **အနုညာတစီရင်ဆုံးဖြတ်ချက်**

ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက စာချုပ်ဝင်အချင်းချင်း ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးများဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးများက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးများက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးများ (သို့မဟုတ်) သမာဓိလူကြီးများ၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ် ဖြစ်စေရမည့်အပြင် အမှုသည်များအပေါ် အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၂၀၁၆ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့် နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်(တပ်ကုန်း)မြို့ ဖြစ်စေရမည်။ အမှု၏ကုန်ကျစရိတ်များကို အမှုကျရှုံးသူက ကျခံစေရမည်။

၁၆။ **စာချုပ်ရုပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရုပ်စဲသွားစေရမည် -

(က) စာချုပ်ဝင် တစ်ဖက်ဖက်က စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်သဖြင့် တစ်ဖက်စာချုပ်ဝင်က အဆိုပါ ဖောက်ဖျက်သော စည်းကမ်းချက်ကို ပြုပြင်ရန်ကာလ သတ်မှတ် ချက်ဖြင့် တရားဝင် အကြောင်းကြားခဲ့သော်လည်း ထို သတ်မှတ်ကာလအတွင်း ဖောက်ဖျက်သူက လိုက်နာခြင်းမပြုသည့်အတွက် ရုပ်စဲခြင်း၊




(ခ) စာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဖက် သဘောတူသည့်အတွက် ရပ်စဲခြင်း၊

(ဂ) ဤစာချုပ်၏ ရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ရန် မဖြစ်နိုင်သည့်အတွက် ရပ်စဲခြင်း၊

(ဃ) ကြိုတင်မမျှော်မှန်းနိုင်သည့် မလွန်ဆန်နိုင်သောဖြစ်ရပ် တစ်ခုသည် (၆)လထက်ကျော်လွန်၍ တစ်ဆက်တည်းဖြစ်ပွားနေသည့်အတွက် ရပ်စဲခြင်း၊

(င) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် နိုင်ငံတော်အစိုးရက ချမှတ်ထားသော (သို့မဟုတ်) အခါအားလျော်စွာ ထုတ်ပြန်သော (စာဖြင့်ဖြစ်စေ၊ တစ်နည်းနည်းဖြင့်ဖြစ်စေ) ဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်၊ မူဝါဒ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်း တစ်စုံတစ်ရာကို မလိုက်နာလျှင်သော်လည်းကောင်း၊ ဖောက်ဖျက်လျှင်သော်လည်းကောင်း၊ ကျင့်ဝတ်နှင့်မညီညွတ်သော အစီအစဉ်များ ထုတ်လွှင့်လျှင်သော်လည်းကောင်း ဤစာချုပ်ကို ချက်ချင်းရပ်စဲခြင်း၊

(စ) ဤစာချုပ်အပိုဒ် (၂၈)ပါဉာဏပစ္စည်းဆိုင်ရာ အခွင့်အရေးများနှင့် စပ်လျဉ်း၍ ဖြစ်ပွားသော အငြင်းပွားမှုများကြောင့် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" တွင် ထိခိုက်နစ်နာမှုဖြစ်ပေါ် လာသည့်အတွက် ရပ်စဲခြင်း။

ဤသဘောတူစာချုပ်ကို ရပ်စဲခြင်းသည် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" က မိမိ၏ ထိခိုက်နစ်နာမှုများအတွက် ဤသဘောတူစာချုပ်ပါ အခွင့်အရေးများနှင့် တည်ဆဲဥပဒေပါ အခွင့်အရေးများနှင့် ကျင့်သုံးနိုင်ခွင့်အား မည်သည့်အခါမျှ ပိတ်ပင်တားမြစ်ခြင်းမရှိစေရ။

**၁၇။ စက်ကိရိယာများပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

အထက်အပိုဒ် (၁၆)ပါ အချက်တစ်ခုခုကြောင့် စာချုပ် ရပ်စဲလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိထားသော ကာလအတွင်း တပ်ဆင်ပေးထားခဲ့သော စက်ကိရိယာများအားလုံးကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" အား "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က အဖိုးစားနားမဲ့ လွှဲပြောင်းပေးအပ်ရမည်။

**၁၈။ အထူးလိုက်နာရန်အချက်များ**

(က) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က တာဝန်ယူထုတ်လွှင့်သော အစီအစဉ်၊ ဇာတ်လမ်းတွဲ စသည့် ပြသသည့် အကြောင်းအရာများအားလုံး၌ လူမှုရေးအရသော်လည်းကောင်း၊ စီးပွားရေးအရသော်လည်းကောင်း၊ တိုင်းရင်းသားစည်းလုံးညီညွတ်ရေး အရသော်လည်းကောင်း၊ ထိခိုက်မှုမရှိစေရေးအတွက် နိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်၊ မူဝါဒ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ အထူးဂရုပြု လိုက်နာဆောင်ရွက်ရမည်။




(ခ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် အစီအစဉ်ထုတ်လုပ်မှုနှင့်ပတ်သက်၍ အများပြည်သူသို့ ထုတ်လွှင့်ပြသရန် ဝိဝါဒ ကွဲပြားမှုဖြစ်ခြင်း၊ ဆုံးဖြတ်ရန်ခက်ခဲခြင်းများရှိပါက "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ထံ ပေးပို့၍ အကြံဉာဏ်ရယူဆောင်ရွက်နိုင်သည်။

(ဂ) "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" နှင့် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" တို့သည် အထက်အပိုဒ် (၁၆) စာချုပ်ရပ်စဲခြင်းပါ အချက်များနှင့်အညီ ဆောင်ရွက်နိုင်သည့်အပြင် ဤစာချုပ်ပါအချက်များကို လိုက်နာရန် ပျက်ကွက်ခြင်း၊ ဖောက်ဖျက်ခြင်းများ ဆောင်ရွက်သည်ကို တွေ့ရှိပါက ပထမအကြိမ် တွေ့ဆုံသတိပေးခြင်း၊ ဒုတိယအကြိမ်စာဖြင့်သတိပေးခြင်း နှင့် နောက်ဆုံးအကြိမ် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က ဆောင်ရွက်ခွင့်ရရှိသည့် ရုပ်မြင်သံကြား Channel လိုင်း ထုတ်လွှင့်ခြင်းအား ပိတ်သိမ်းသည်အထိ အရေးယူဆောင်ရွက်မည်ဖြစ်သည်။

၁၉။ **ဆက်သွယ်အကြောင်းကြားရန်လိပ်စာများ**

ဤစာချုပ်ဝင်နှစ်ဦးတို့အကြား ဆက်သွယ်ခြင်း၊ အကြောင်းကြားစာ ပေးပို့ခြင်းကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။ အဆိုပါ လိပ်စာများကို ပြောင်းလဲလိုသူသည် တစ်ဖက် စာချုပ်ဝင်အား (၁၄)ရက် ကြိုတင် အကြောင်းကြားစာပေးပို့ရမည် -

| | |
|---|---|
| မြန်မာ့အသံနှင့်ရုပ်မြင်သံကြား | Fortune Broadcasting Company Limited |
| ပြန်ကြားရေးဝန်ကြီးဌာန | တိုက်(၁၂)၊ MICT ဝင်း၊ |
| နေပြည်တော်၊ | လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ဖုန်း (၀၆၇) ၇၉၄၅၆ | ဖုန်း 09-5002452 |
| Fax (၀၆၇) ၇၉၄၀၃ | Email: myahan-fil@fortunemm.com |

၂၀။ **နို့တစ်စာ**

(၁) ဤသဘောတူညီချက်အရ ထုတ်ပေးရမည့် မည်သည့်နို့တစ်စာ(သို့မဟုတ်) အခြား စာရွက်စာတမ်းကိုမဆို စာဖြင့်ရေးသားရမည်။ ကြိုတင်ငွေအား မှတ်ပုံတင်စာ (သို့မဟုတ်) တဲလက်စ် (သို့မဟုတ်) ဖက်စ်ဖြင့် ပေးပို့ခြင်း (သို့မဟုတ်) လိပ်စာ၌ ထားခဲ့ခြင်းများကို သဘောတူညီချက်ပါ လိပ်စာအသီးသီး (သို့မဟုတ်) ပေးပို့ရမည့် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" ၏ လက်ရှိ မှတ်ပုံတင်၊ ရုံးလိပ်စာ (သို့မဟုတ်) အခြားလိပ်စာနှင့် (သို့မဟုတ်) ယင်း "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သို့ စာဖြင့်နောက်ဆုံး သတိပေးထားသော လိပ်စာသို့ ပေးပို့ရမည်။




(၂) မည်သည့် ယင်းကဲ့သို့ နို့တစ်စာ (သို့မဟုတ်) အခြား စာရွက်စာတမ်းများကို စာတိုက်မှ ပေးပို့ရသော ကိစ္စများတွင် ပေးပို့ပြီးနောက် (၃)ရက်အကြာ (သို့မဟုတ်) လေကြောင်းစာဖြင့်ပို့ပြီး နောက်(၇)ရက်အကြာမှာ တာဝန်ကျေ ပေးပို့ပြီးသည်ဟု မှတ်ယူရမည်။ နို့တစ်စာ ပေးပို့ကြောင်း သက်သေပြရာတွင် နို့တစ်စာထားခဲ့ကြောင်း (သို့မဟုတ်) ယင်း နို့တစ်စာ ပါသော စာအိတ်ကို သေချာစွာ လိပ်စာရေးထားကြောင်းနှင့် စာတိုက်မှ ပေးပို့ကြောင်း (သို့မဟုတ်) ဤအပိုဒ်နှင့်အညီ နို့တစ်စာအားဖြင့် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က အခါအားလျော်စွာ သတ်မှတ်ထားသည့်အတိုင်း အခြားလိပ်စာများ (သို့မဟုတ်) ဖက်စ်နံပါတ်များ (သို့မဟုတ်) အဝေးဆက်သွယ်ရေး နည်းလမ်းတစ်ခုခုဖြင့် ပေးပို့ကြောင်း သက်သေပြနိုင်လျှင် အတည်ဖြစ်ကြောင်း လုံလောက်သည်။

## ၂၀။ အခွန်အခများပေးဆောင်ခြင်း

"လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် ဤသဘောတူစာချုပ်ပါ ဆောင်ရွက်ခွင့်ရရှိသည့် လုပ်ငန်းများအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်းများအရ မိမိကိုအပေါ် ကာဂနိကျရောက်သည့် ပေးဆောင်ရမည့် အခွန်အခများကို အားလုံးပေးဆောင်ရမည်။

## ၂၂။ စာချုပ်၏ တစ်စိတ်တစ်ပိုင်းတည်းဖြစ်မှု

လက်မှတ်ရေးထိုးထားသော နောက်ဆက်တွဲများ၊ ပူးတွဲများ၊ ဖြည့်စွက်ချက်များသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

## ၂၃။ လျှို့ဝှက်ထားရှိခြင်း

(က) ဤအပိုဒ်သည် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" က "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" အား တိုက်ရိုက်သော်လည်းကောင်း၊ တိုက်ရိုက်မဟုတ်ဘဲသော်လည်းကောင်း၊ ဤသဘောတူစာချုပ်၏ ရက်စွဲမတိုင်မီဖြစ်စေ၊ နောက်ပိုင်းတွင်ဖြစ်စေ၊ စာဖြင့်ရေးသား၍ဖြစ်စေ၊ နှုတ်ဖြင့်ဖြစ်စေ၊ အခြားနည်းဖြင့်ဖြစ်စေ ထုတ်ဖော်ဖွင့်ဟသော လျှို့ဝှက်ထားရှိရသည့် သတင်းအချက်အလက်အားလုံးနှင့် သက်ဆိုင်စေရမည်။

(ခ) ဤသဘောတူ စာချုပ်၏ သက်တမ်းအတွင်းတွင်လည်းကောင်း၊ ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးပြီး (သို့မဟုတ်) ရပ်စဲပြီးနောက်တွင်လည်းကောင်း၊ မည်သည့် အကြောင်းကြောင့်မဆို၊ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် -

(၁) လျှို့ဝှက်ထားရှိရမည့် သတင်းအချက်အလက်ကို တည်ဆဲဥပဒေများနှင့်အညီ လျှို့ဝှက်ထားရှိရမည်၊

(၂) ဤသဘောတူစာချုပ်အရဖြစ်သော ၎င်း၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် ရည်ရွယ်ချက်အတွက်မှအပ အခြားသောရည်ရွယ်ချက် တစ်စုံတစ်ရာအတွက် လျှို့ဝှက်ထားရှိရမည့်သတင်း အချက်အလက်ကို အသုံးမပြုရ။




(ဂ) ဤသဘောတူစာချုပ်၏ သက်တမ်းအတွင်းတွင် "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် လျှို့ဝှက်ထားရှိရမည့် သတင်းအချက်အလက်ကို ၎င်း၏ဝန်ထမ်းများအနက် တစ်စုံတစ်ယောက် (သို့မဟုတ်) အကြံပေးသူများ (သို့မဟုတ်) အစုရှယ်ယာရှင်များ ("အပ်နှင်းခံရသူ") (Recipient)အား ဤသဘောတူ စာချုပ်၏ ရည်ရွယ်ချက်များအတွက် လိုအပ်သည့် အတိုင်းအတာအား တစ်ဖက်စာချုပ်ဝင်၏ သဘောတူညီချက် ရရှိမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ဃ) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် ဤသဘောတူစာချုပ်အရ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" ၏ လျှို့ဝှက်ထားရှိရမည့် တာဝန်ဝတ္တရားများကို အပ်နှင်းခံရသူတိုင်းအား လက်ခံရရှိသော ပါဝင်ချုပ်ဆိုသူ ဖြစ်ဘိသကဲ့သို့ သိရှိစေခြင်းနှင့် လိုက်နာစေခြင်းကို ဖြစ်မြောက်စေရမည်။ "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" သည် အပ်နှင်းခံရသူက ဤအပိုဒ်ကို ချိုးဖောက်မှု တစ်စုံတစ်ရာအတွက် တာဝန်ရှိစေရမည်။

(င) အပိုဒ် (ခ) မှ (ဃ) အထိပါ ရှိသော တာဝန်ဝတ္တရားများသည် အောက်ဖော်ပြပါ လျှို့ဝှက်ထားရှိရမည့် သတင်းအချက်အလက်များနှင့် အောက်ဖော်ပြပါအခြေအနေများတွင် သက်ဆိုင်ခြင်း မရှိစေရ။

(၁) ၎င်းသည် ဤသဘောတူစာချုပ်၏ နေ့ရက် (သို့မဟုတ်) ဤသဘောတူစာချုပ် ချုပ်ဆိုသော နေ့ရက်၏ နောက်ပိုင်း မည်သည့်အချိန်တွင်မဆို "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" (သို့မဟုတ်) အပ်နှင်းခံရသူ တစ်စုံတစ်ယောက် က ဤသဘောတူစာချုပ်ကို ချိုးဖောက်ခြင်းကြောင့် မဟုတ်ဘဲ အများပြည်သူဆိုင်ရာ နယ်ပယ် **(Public Domain)** သို့ရောက်ရှိလာခြင်း၊

(၂) "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" က ၎င်းသည် "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" မှ မိမိအား ထုတ်ဖော်ဖွင့်ဟခြင်းမပြုမီကပင် သိရှိထားပြီးဖြစ်ကြောင်း၊ "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ဟု ဟျိုးကြောင်းဆီမလျော်မွာ မဟုပ်ယည်အထိ ပြသနိုင်ခြင်း၊

(၃) နောက်ပိုင်းတွင် ပါဝင်ချုပ်ဆိုခြင်းနှင့် မပတ်သက်သောအခြားသူ (Third Party) ထံမှ လက်ခံရရှိသော ပါဝင်ချုပ်ဆိုသူ၏လက်ဝယ်သို့ တရားဝင်ရောက်ရှိလာခြင်း၊

(၄) ဥပဒေအရလိုအပ်ခြင်း (သို့မဟုတ်) စီရင်ပိုင်ခွင့်ရှိသော တရားရုံးတစ်စုံတစ်ရာ၊ အစိုးရပိုင်းဆိုင်ရာ၊ ရုံးပိုင်းဆိုင်ရာ (သို့မဟုတ်) ထိန်းသိမ်းကြီးကြပ်ရေးဆိုင်ရာ အာဏာပိုင် တစ်စုံတစ်ဦး၏ တောင်းဆိုမှု (သို့မဟုတ်) စည်းနှောင်မှုရှိသော စီရင်ချက်၊ အမိန့်အရ (သို့မဟုတ်) အခြားအရည်အချင်း ပြည့်ဝသော အာဏာပိုင် တစ်စုံတစ်ဦး၏ တောင်းဆိုချက်အရ ထုတ်ဖော်ဖွင့်ဟရန်လိုအပ်ခြင်း။




(စ) ပါဝင်ချုပ်ဆိုသူတစ်ဦးက ရရှိနိုင်မည့်အခြားသောအခွင့်အရေးများ (သို့မဟုတ်) ကုစားမှုများ တစ်စုံတစ်ရာကို ထိခိုက်ခြင်းမရှိစေဘဲ၊ လျော်ကြေးသည် ဤအပိုဒ်ကို ချိုးဖောက်မှုတစ်စုံတစ်ရာအတွက် လုံလောက်သော ကုစားမှုမဟုတ်ကြောင်း၊ အဆိုပါ ပြဋ္ဌာန်းချက်ကို အမှန်တစ်ကယ် ချိုးဖောက်ခြင်း (သို့မဟုတ်) ချိုးဖောက်မည်ဟု ခြိမ်းခြောက်ခြင်းများအတွက် တားမြစ်မိန့်၊ သီးခြားဆောင်ရွက်ပေးခြင်းနှင့် အခြားသာတူညီမျှသော သက်သာခွင့်များသည် သင့်လျော်ကြောင်းနှင့် ဤအပိုဒ်အရဖြစ်သော အခွင့်အရေးများကို အတည်ပြုဆောင်ရွက်ရာတွင် အထူးနစ်နာကြေးအတွက် မည်သည့်သက်သေကိုမျှ ပြသရန်မလိုအပ်ကြောင်း ပါဝင်ချုပ်ဆိုသူများက သိရှိလက်ခံ သဘောတူကြပါသည်။

## ၂၄။ စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

ဤသဘောတူစာချုပ်တွင်ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါ စည်းကမ်းချက်များကို ပြန်လည်စေ့စပ် ညှိနှိုင်းဆောင်ရွက်ရမည်။

## ၂၅။ စာချုပ်အားပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း

ဤသဘောတူစာချုပ်ကို နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ ဤသဘောတူစာချုပ်တွင် လုပ်ငန်းလိုအပ်ချက်အရ ပေါ်ပေါက်လာသော အချက်အလက် (သို့မဟုတ်) အခြေအနေတစ်ရပ်ရပ်ပေါ်ပေါက်ပြီး စာချုပ်ကိုပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။

## ၂၆။ မူရင်းခွဲများ

ဤသဘောတူစာချုပ်ကို မူရင်းခွဲများနှင့်(မည်မျှဖြစ်စေ) ပြုလုပ်နိုင်သည်။ သို့ရာတွင် မူရင်းခွဲများ အားလုံးသည် တစ်မျိုးတည်းတူညီသော မူရင်းများဖြစ်သည်။

## ၂၇။ လွှဲအပ်ခြင်း

"လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ"သည် ဤသဘောတူစာချုပ်အရဖြစ်သည့် အခွင့်အရေးများ၊ အားလုံးကိုဖြစ်စေ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ လွှဲအပ်ခြင်း(သို့မဟုတ်) ဤသဘောတူစာချုပ်အရဖြစ်သည့် တာဝန်များ အာလုံးကိုဖြစ်စေ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ လွှဲပြောင်းပေးခြင်းကို "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" ၏ စာဖြင့် ရေးသားထားသော ကြိုတင်ခွင့်ပြုချက်မရှိဘဲ မပြုလုပ်ရ။

## ၂၈။ ဉာဏပစ္စည်းဆိုင်ရာ အခွင့်အရေး

"လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ"ကမိမိတာဝန်ယူထုတ်လွှင့်မည့် ရုပ်သံလိုင်းသစ်တွင် အသုံးပြုမည့် ဉာဏပစ္စည်းဆိုင်ရာ အခွင့်အရေးများနှင့်သော်လည်းကောင်း ထုတ်လွှင့်သည့် ရုပ်သံအစီအစဉ်များနှင့် ထုတ်လွှင့်သည့် အကြောင်းအရာများ၏ ဉာဏပစ္စည်းဆိုင်ရာအခွင့်အရေးများနှင့်သော်လည်းကောင်း၊ ထိုရုပ်သံ အစီအစဉ်များနှင့် အကြောင်းအရာများတွင်ပါရှိသော အချက်အလက်တစ်စုံတစ်ရာ၏ ဉာဏပစ္စည်းဆိုင်ရာ အခွင့်အရေးများနှင့်သော်လည်းကောင်း စပ်လျဉ်းပြီး၊ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက၊ အဆိုပါကိစ္စရပ်များအတွက် တာဝန်ယူဖြေရှင်းသွားရန် ဝန်ခံကတိပြုပြီး "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" အား ထိခိုက်မှုတစ်စုံတစ်ရာမရှိစေရန် အာမခံပါသည်။




လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသည့် ရုပ်သံလိုင်းသစ်တွင် အသုံးပြုသော Fortune TV ရုပ်သံလိုင်း အမည်နှင့်စပ်လျဉ်းသည့် ဉာဏပစ္စည်းဆိုင်ရာ အခွင့်အရေးအားလုံးကို ပိုင်ဆိုင်ခွင့်ရှိသော အခွင့်အရေးဖြစ်ကြောင်း တာဝန်ယူပါသည်။

ဤသဘောတူစာချုပ်ကို အထက်တွင် ဖော်ပြထားသည့် အကြောင်းအရာအချက်အလက်များကို နားလည်သဘောတူ လက်ခံကြသည့် စာချုပ်ဝင်များသည် --ဒိုး-------- ၌ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ( ၁၇ ) ရက်နေ့တွင် အောက်ပါအသိသက်သေများ ရှေ့မှောက်၌ မိမိတို့၏ တံဆိပ်များကို ရိုက်နှိပ်လျက် စာချုပ် မူရင်းကွဲ နှစ်စောင်ပြုလုပ်ကာ လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည် -

| "လုပ်ငန်းဆောင်ရွက်ခွင့်ပြုသူ" (ကိုယ်စား) | "လုပ်ငန်းဆောင်ရွက်ခွင့်ရရှိသူ" (ကိုယ်စား) |
|---|---|
| ( မြင့်ထွေး ) | ( မြဟန် ) |
| ညွှန်ကြားရေးမှူးချုပ် | Managing Director |
| မြန်မာ့အသံနှင့်ရုပ်မြင်သံကြား | Fortune Broadcasting Company Limited |

**အသိသက်သေများ**

| | |
|---|---|
| အမည်------------------------ | အမည်------------------------ |
| အလုပ်အကိုင်--- (ဒေါ်...) ---- | အလုပ်အကိုင်------------------ |
| နိုင်ငံသားစိစစ်ရေး ဒုတိယညွှန်ကြားရေးမှူး မြန်မာ့အသံနှင့်ရုပ်မြင်သံကြား | နိုင်ငံသားစိစစ်ရေး |
| ကတ်ပြားအမှတ်------------------ | ကတ်ပြားအမှတ်------------------ |
| နေရပ်လိပ်စာ------------------ | နေရပ်လိပ်စာ ------------------ |

နောက်ဆက်တွဲ(၄)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး
စီးပွားရေးရာဌာနကြီး

စာအမှတ်၊ ၁ (၁/ ၄ / ) /၇ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်

သို့

ပြန်ကြားရေးဝန်ကြီးဌာန

အကြောင်းအရာ။ သဘောတူစာချုပ် ချုပ်ဆိုခွင့်ကိစ္စ

ရည် ညွှန်း ချက်။ (၁) ယင်း၏ ၂၈-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ၃-၄(၄/၂၀၁၇)/၁၀၆၉

(၂) စီးပွားရေးရာကော်မတီ၏ ၂၁-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ စီးပွားကော်မတီ/ အစိုးရအဖွဲ့ ( ၁၇၇ / ၂၀၁၇ )

ပြန်ကြားရေးဝန်ကြီးဌာနနှင့် ကုမ္ပဏီ (၅) ခုတို့အကြား MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် ရုပ်သံလိုင်း (၅) လိုင်း ထည့်သွင်းထုတ်လွှင့်သည့် လုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ် ချုပ်ဆိုခွင့်ပြုရေးအတွက် စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၇) သို့ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြမှုနှင့်စပ်လျဉ်း၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ဇရတ်ဆင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
စီးပွားရေးရာကော်မတီ
နိုင်ငံတော်အတိုင်ပင်ခံရုံးဝန်ကြီးဌာန
ပြည်ထောင်စုရှေ့နေချုပ်ရုံး



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်ထောင်စုအစိုးရအဖွဲ့**

**စီးပွားရေးရာကော်မတီ**

စာအမှတ်၊ စီးပွားကော်မတီ/အစိုးရအဖွဲ့(၁၇၆/၂၀၁၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက်

သို့

နိုင်ငံတော်သမ္မတရုံး၊ စီးပွားရေးရာဌာနကြီး

အကြောင်းအရာ။ စီးပွားရေးရာကော်မတီ ( ၁၉/ ၂၀၁၇ ) ၏ အမှာစာ ကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၇)ကို ၁၄-၁၂-၂၀၁၇ ရက်နေ့ (ကြာသပတေးနေ့)တွင် နိုင်ငံတော်သမ္မတအိမ်တော် (ဘီ)ဆောင်၊ သမ္မတရုံးဝန်ကြီးဌာန အစည်းအဝေး ခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဖေယာ်းဖြင့် တင်ပြအပ်ပါသည်။

18.12.17

အတွင်းရေးမှူး

စီးပွားရေးရာကော်မတီ

မိတ္တူကို

နိုင်ငံခြားရေးဝန်ကြီးဌာန

သမ္မတရုံးဝန်ကြီးဌာန

ပြည်ထဲရေးဝန်ကြီးဌာန

ပြန်ကြားရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန

စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့်ပြန်လည်နေရာချထားရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မွန်ပြည်နယ်အစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ရုံးလက်ခံ/မျှောစာတွဲ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်လိုသည့်ကိစ္စ | ကောက်နုတ်ချက် |
|---|---|---|---|
| ၃။ | မြန်မာ့အသံနှင့် ရုပ်မြင်သံကြားနှင့်ကုမ္ပဏီ (၅)ခုတို့အကြား "MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့်ရုပ်သံလိုင်း(၅)လိုင်း ထည့်သွင်း ထုတ်လွှင့်သည့် လုပ်ငန်းများ ပူးပေါင်း ဆောင်ရွက်ခြင်း" သဘောတူ စာချုပ်ချုပ်ဆိုရန် တင်ပြခြင်းကိစ္စ။ (ပြန်ကြားရေးဝန်ကြီးဌာန) | စာချုပ်ချုပ်ဆိုခွင့် မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် My Multi Media Group Co., Ltd.၊ KMA TeleMedia Holdings Ltd. ၊ DVB Multi Media Group Co.,Ltd.၊ Fortune International Limited နှင့် Mizzima Media Co.,Ltd. တို့အကြား "MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် ရုပ်သံလိုင်း (၁)လိုင်းစီထည့်သွင်း ထုတ်လွှင့်သည့် လုပ်ငန်းများ ပူးပေါင်း ဆောင်ရွက်ခြင်း" သဘောတူစာချုပ် | ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြ ဆောင်ရွက်သွားရန် ဖြစ်ပါသည်။ |

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၃-၃(၅/၂၀၁၈)/ ၁၄၅

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ၊ ဖေဖော်ဝါရီ လ ၉ ရက်

အကြောင်းအရာ။ **မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ကုမ္ပဏီ (၅)ခုတို့အကြား "MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် ရုပ်သံလိုင်း (၅)လိုင်း ထည့်သွင်းထုတ်လွှင့်သည့်လုပ်ငန်းများပူးပေါင်းဆောင်ရွက်ခြင်း"သဘောတူစာချုပ် ချုပ်ဆိုရန်ကိစ္စ**

၁။ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ကုမ္ပဏီ (၅)ခုတို့အကြား "MRTV Multi Channel Playout System တွင် DVB-T2 စနစ်ဖြင့် ရုပ်သံလိုင်း (၅)လိုင်း ထည့်သွင်းထုတ်လွှင့်သည့် လုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ခြင်း" သဘောတူစာချုပ် ချုပ်ဆိုရန်ကိစ္စနှင့်ပတ်သက်၍ ၃၀-၁-၂၀၁၈ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊ ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၈) သို့တင်ပြခဲ့ရာ အမှာစာကို သဘောတူကြောင်း အစည်းအဝေးမှတ်တမ်းကောက်နုတ်ချက်ကို ပေးပို့လာပါသည်။

၂။ ဆက်လက်ဆောင်ရွက်နိုင်ရန် အကြောင်းကြားပါသည်။

၉၊၂၊ ၂၀၁၈

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( မြင့်ကျော် ၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

၉/၂/၂၀၁၈

ညွှန်ကြားရေးမှူးချုပ်
မြန်မာ့အသံနှင့်ရုပ်မြင်သံကြား

Page22/ A/3MST(18)

လျှို့ဝှက်

FORTUNE
International Limited

## FORTUNE INTERNATIONAL LIMITED

### ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၂၀၁၈ ခုနှစ်၊ ဇွန်လ (၂၇) ရက်။

ကျင်းပသည့်အချိန်။ ။ နံနက် ( ၉း၀၀ ) နာရီ

ကျင်းပသည့်နေရာ။ ။ ကုမ္ပဏီ အစည်းအဝေးခန်းမ

အစည်းအဝေးတက်ရောက်သူဒါရိုက်တာများ ။

| စဉ် | အမည် | ရာထူး | လက်မှတ် |
|---|---|---|---|
| ၁။ | ဦးမြဟန် | မန်နေးဂျင်းဒါရိုက်တာ | |
| ၂။ | ဒေါ်ခင်စပယ်ကြည် | ဒါရိုက်တာ | |
| ၃။ | ဒေါ်မြမာလာဟန် | ဒါရိုက်တာ | |
| ၄။ | ဒေါ်ထက်မြက်ဟန် | ဒါရိုက်တာ | |
| ၅။ | ဒေါ်လင်းလက်ဝင်း | ဒါရိုက်တာ | |

**အစည်းအဝေးအစီအစဉ်များ။**

(၁) အစည်းအဝေးသဘာပတိရွေးချယ်ခြင်း။

(၂) အစည်းအဝေးတက်ရောက်လာသူဒါရိုက်တာများမှ ၎င်းတို့ပါဝင်ဖွဲ့စည်းတည်ထောင်ထားသည့် ညီနောင်ကုမ္ပဏီ၏ လုပ်ငန်းလုပ်ဆောင်မှုများအား တင်ပြဆွေးနွေးခြင်း။

(၃) အစည်းအဝေးတက်ရောက်လာသူဒါရိုက်တာများမှ တင်ပြဆွေးနွေးချက်များ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခြင်း။

(၄) နိဂုံး။

9150

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

**<u>အစည်းအဝေးဆွေးနွေးချက်များ။</u>**

(၁) အစည်းအဝေးတက်ရောက်လာသူဒါရိုက်တာများမှ အစည်းအဝေးသဘာပတိအဖြစ် **မန်နေးဂျင်း ဒါရိုက်တာ ဖြစ်သူ ဦးမြဟန်** အားရွေးချယ် တင်မြှောက်ပါသည်။

(၂) အစည်းအဝေးတက်ရောက်လာသူဒါရိုက်တာများမှ ၎င်းတို့ပါဝင်ဖွဲ့စည်းတည်ထောင်ထားသည့် ညီနောင်ကုမ္ပဏီဖြစ်သော Fortune Broadcasting Co., Ltd. ၏ "Fortune TV" ရုပ်သံလိုင်းရိုက်ကူးထုတ်လွှင့်ခြင်းလုပ်ငန်းလုပ်ကိုင်မှုအတွက် Fortune International Limited မှပံ့ပိုးဆောင်ရွက်ပေးခဲ့မှုများ နှင့်နောင်တွင်လုပ်ဆောင်မည့် လုပ်ငန်းစဉ်များအကြောင်း တင်ပြဆွေးနွေးကြပါသည်။

(၃) အစည်းအဝေးတက်ရောက်လာသူဒါရိုက်တာများမှ တင်ပြဆွေးနွေးချက်များအား ဆက်လက်ဆောင်ရွက်ရန် အောက်ပါအတိုင်း ဆုံးဖြတ်ကြပါသည်။

<u>အစည်းအဝေးဆုံးဖြတ်ချက်များ -</u>

(က) ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံ နှင့် ရုပ်မြင်သံကြား၏ Digital Free to Air စနစ်ဖြင့် ရုပ်သံလိုင်း (၅) လိုင်းလုပ်ကိုင်ဆောင်ရွက်ရန်တင်ဒါခေါ်ယူမှုအား Fortune International Limited. မှပါဝင်ယှဉ်ပြိုင်၍ တင်ဒါအောင်မြင်ခဲ့ချိန်တွင် အဆိုပါလုပ်ငန်းကိုဆက်လက်လုပ်ကိုင်သွားမည့် Fortune Broadcasting Co., Ltd. ကိုမဖွဲ့စည်းရသေးပါသဖြင့် သက်ဆိုင်ရာကိစ္စအရပ်ရပ်အတွက် မိမိတို့ Fortune International Limited. အမည်ဖြင့်တာဝန်ယူတင်ပြခဲ့ခြင်းအား သိရှိပါကြောင်းနှင့် ကန့်ကွက်ရန်မရှိကြောင်းသဘောတူညီကြပါသည်။

(ခ) သို့ဖြစ်ပါ၍ ထိုကာလများအတွင်း တရားဝင်ထွက်ရှိခဲ့သော ဌာနဆိုင်ရာစွင့်ပြုစာများတွင် ကုမ္ပဏီအမည်ဖော်ပြချက်များမှာ လုပ်ငန်းလုပ်ကိုင်မည့် Fortune Broadcasting Co., Ltd. ၏အမည်ဖြင့်မဟုတ်ဘဲ Fortune International Limited.ဟုဖော်ပြခဲ့ခြင်းအား ဒါရိုက်တာများအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း နှင့် ကုမ္ပဏီအမည်ကွဲလွဲသုံးစွဲမှုကြောင့် နောက်ဆက်တွဲဖြစ်ပေါ်လာမည့် ကိစ္စရပ်များအား တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းသဘောတူညီကြပါသည်။

(ဂ) Fortune Broadcasting Co., Ltd. ၏ "Fortune TV" ရုပ်သံလိုင်းရိုက်ကူးထုတ်လွှင့်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ကုမ္ပဏီ၏ Managing Director ပိုင်ဆိုင်သော တိုက် (၁၄) ၊ MICT Park ၊ လှိုင်မြို့နယ်၏ မြေညီထပ် နှင့် ပထမထပ် အား ငှားရမ်းခရယူခြင်းမရှိဘဲ ပေးကမ်းသုံးစွဲသွားမည်ဖြစ်ကြောင်းကို သဘောတူညီကြပါသည်။


**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

FORTUNE
International Limited

(ဃ) Fortune Broadcasting Co., Ltd. ၏ "Fortune TV" ရုပ်သံလိုင်းရိုက်ကူးထုတ်လွှင့်ခြင်းလုပ်ငန်း အတွက် အသုံးပြုသောရုံးခန်းများနှင့် Studio တို့တွင် လိုအပ်သော သန့်ရှင်းရေးဆောင်ရွက်ခြင်း နှင့် ယာဉ်များမောင်းနှင်ရန် အတွက် လိုအပ်သောယာဉ်မောင်းများအား Fortune International Ltd. မှပင် တာဝန်ယူ ဆောင်ရွက်ပေး မည်ဖြစ်ပါကြောင်းကို သဘောတူညီကြပါသည်။

(၄) ထို့နောက် သဘာပတိမှကျေးဇူးတင်စကားပြောကြားပြီး အစည်းအဝေးကို (၁၂း၀၀) နာရီတွင် ရုပ်သိမ်းလိုက် ပါသည်။

မှတ်တမ်းတင်သူ

ဦးမြဟန်
မန်နေးဂျင်းဒါရိုက်တာ
Fortune International Limited.

9152

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။၂၀၁၈ခုနှစ်၊ ဖြဂုတ်လ(၂၃)ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရုံးခန်းရမ်းခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ (၁၂) ရပ်ကွက်၊ တက္ကသိုလ်များလှိုင်နယ်မြေ ၊ MICT Park တိုက်အမှတ် (၁၄) ၏ အလျား ၁၄၄ ပေ x အနံ ၆၀ ပေ စီ ကျယ်ဝန်းသော မြေညီထပ် နှင့် ပထမထပ် (၂) ထပ် စုစုပေါင်းဧရိယာမှာ စတုရန်းပေ ၁၇,၂၈၀ တွင် ကျွန်တော်တို့ မိသားစုဝင်များဖြင့် ဖွဲ့စည်းထားသော မိသားစုကုမ္ပဏီဖြစ်သည့် "ဖော်ကျွန်းရုပ်သံလွှင့် ကုမ္ပဏီလီမိတက်" "Fortune Broadcasting Co., Ltd." ၏ Fortune TV ရုပ်သံလိုင်း ရိုက်ကူးထုတ်လွှင့်ခြင်း လုပ်ငန်း ( Fortune TV Channel Production and Broadcasting ) ဆောင်ရွက်ရန် ငှားရမ်းခြင်းဖြစ်ပါသည်။

၂။ အဆိုပါရုံးခန်းနေရာများ အပါအဝင် ထိုအဆောက်အဦ တိုက်အမှတ် (၁၄) ၏ မြေညီထပ် မှ တတိယထပ် အထိ ၄ လွှာ အား ကျွန်တော်၏ မွေးချင်းအမဖြစ်သူ ဒေါ်ခင်စောဝေ (Khine Industries Co., Ltd.) ထံမှ ရုံးခန်းများ ဖွင့်လှစ်ရန် လက်ခံရရှိခဲ့ပါသည်။

၃။ ယခုအခါ ကျွန်တော်တို့၏ "ဖော်ကျွန်းရုပ်သံလွှင့် ကုမ္ပဏီလီမိတက်" "Fortune Broadcasting Co., Ltd." ၏ Fortune TV ရုပ်သံလိုင်း ရိုက်ကူးထုတ်လွှင့်ခြင်း လုပ်ငန်း ( Fortune TV Channel Production and Broadcasting ) လုပ်ငန်းဆောင်ရွက်ရန် အသုံးပြုနိုင်သော ကာလပတ်လုံး ငှားရမ်းခ ရယူခြင်းမရှိဘဲ ပေးကမ်းသုံးစွဲသွားမည် ဖြစ်ပါသည်။ နောက်နောင်ဖြစ်ပေါ်လာသော ကိစ္စအဝဝအားလည်း ကျွန်တော် ဦးမြဟန် မှ တာဝန်ယူဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း လေးစားစွာ ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( မြဟန် )
MANAGING DIRECTOR
FORTUNE BROADCASTING CO., LTD.

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀၀ကျပ် K 50000

# ပေး ကမ်း ခြင်း စာ ချုပ်

၂၀၁၆ ခုနှစ်၊ဒီဇင်ဘာလ ( 22) ရက်နေ့တွင် ရန်ကုန်မြို့၌ အောက်အမည်ပါသူတို့မှ ပေးကမ်းခြင်းစာချုပ်ကို ချုပ်ဆိုကြသည်မှာ-

| | | |
|---|---|---|
| ၁။ | ပေးကမ်းသူ | ဒေါ်ခင်စောဝေ (ဘ) ဒေါက်တာဦးဇော်ဂင်း<br>နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁၂/ကမရ (နိုင်) ၀၁၂၈၂၇<br>အမှတ် ၁၆၉ (F) ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်<br>ရန်ကုန်မြို့။ |
| ၂။ | ပေးကမ်းခြင်းကိုလက်ခံသူ | ဦးမြဟန် (ဘ) ဒေါက်တာဦးဇော်ဂင်း<br>နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ် ၁၂/ကမရ (နိုင်) ၀၁၄၃၆၄<br>အမှတ်၁၂(B)၊ ခပေါင်းလမ်း၊ (၁၀) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

အထက်အမည်ပါ ပေးကမ်းသူ နှင့် ပေးကမ်းခြင်းကို လက်ခံသူဟုဆိုရာတွင် ၎င်းတို့အသီးသီးကိုယ်တိုင်နှင့် ၎င်းတို့၏ အခွင့်ရကိုယ်စားလှယ်များ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရပြောရေးဆိုခွင့်ရှိသူများ၊ ဆက်ခံသူများပါ ပါဝင်သည်ဟုမှတ်ယူရမည်။

၁။ အထက်အမည်ပါ ပေးကမ်းသူ နှင့် ပေးကမ်းခြင်းကိုလက်ခံသူတို့သည်မိဘများဖြစ်ကြသည့် ဒေါက်တာဦးဇော်ဂင်း နှင့် ဒေါက်တာဒေါ်သံဒါဖြူ တို့မှ မွေးဖွားသည့် မောင်နှမအရင်းအချာများ ဖြစ်ကြပါသည်။

၂။ ပေးကမ်းသူသည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်တွင် MICTDC မှ တရားဝင်ပိုင်ဆိုင်သည့် မြေတိုင်းရပ်ကွက်အမှတ်- (၂၄၊ ၂၅၊ ၂၆/ကမာရွတ်) လူနေရပ်ကွက်အမှတ်-(၁၃/က$^{၂}$၊ ၂/ က$^{၂}$ ၊ ၁/ဃ$^{၄/၁}$၊ ၁/င $^{၂}$၊ မြေကွက်အမှတ်-(၂/က၊ ၁၀/က၊ ၉/ဆ $^{၀}$ ၊ ၃/ခ $^{၈}$ $^{၂}$ ) အရ နှစ် ၆၀ ဂရန်မြေ၊ ၂၀၁၂ ခုနှစ် (မြေငှား) အမှတ်တွဲအမှတ် လ-၂/၂၀၀၂ အရ မြေဧရိယာစုစုပေါင်း (၂၂.၉၁၂) ဧက အနက်မှ (၁၄၄ ပေ x ၆၀ ပေ ) အကျယ်ရှိမြေပေါ်တွင် (၆) ထပ်အဆောက်အဦကို ဆောက်လုပ်ရန် MICTDC ထံမှ အခွင့်အာဏာရရှိခဲ့ပြီး MICTDC နှင့် ချုပ်ဆိုခဲ့သည့် ၁၃-၅-၂၀၁၁ ရက်စွဲပါ အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်း လုပ်ငန်း သဘောတူကတိစာချုပ်အရ စာချုပ်အပိုဒ် ၁၆ အရ အဆောက်အဦအမှတ် ၁၄ ၏ မြေညီထပ်မှ တတိယအလွှာထိလေးလွှာကို ပိုင်ဆိုင်ခဲ့ပါသည်။



၃။ ပေးကမ်းသူသည် မိမိပိုင်ဆိုင်သည့် အထက်အပိုဒ် ၂ ပါ အဆောက်အဦအမှတ် ၁၄ ၏ မြေညီထပ်မှ တတိယထပ်အလွှာထိ စုစုပေါင်းလေးလွှာကို မိမိ၏ မောင်အရင်းဖြစ်သူ ပေးကမ်းခြင်းကို လက်ခံသူအား ရုံးလုပ်ငန်းဖွင့်လှစ်ဆောင်ရွက်ရန်အတွက် ဤစာချုပ်ချုပ်ဆိုသည့်နေ့တွင် အဖိုးစားနားမပါဘဲ လွှဲပြောင်းပေးအပ်ပါသည်။

၄။ ပေးကမ်းခြင်းကို လက်ခံသူ ဦးမြဟန်မှလည်း ပေးကမ်းသည့်ပစ္စည်းကို ဝမ်းမြောက်စွာဖြင့် ကာယကံမြောက်လက်ခံရရှိကြောင်း ဤစာချုပ်ဖြင့် ဝန်ခံပါသည်။

၅။ တံဆိပ်ခေါင်းထမ်းဆောင်ရန်အလို့ငှာ ပေးကမ်းသည့် ပစ္စည်း၏ တန်ဖိုးကို ကျပ် ၂၀၀,၀၀၀,၀၀၀ (ကျပ်နှစ်ထောင်သိန်းတိတိ) ဟုတန်ဖိုးသတ်မှတ်ပါသည်။

၆။ ပေးကမ်းသူနှင့် ပေးကမ်းခြင်းကို လက်ခံသူတို့သည် ဤပေးကမ်းစာချုပ်ကို မိမိတို့၏ လွတ်လပ်သောသဘောဆန္ဒများဖြင့် မိမိတို့၏ ကိုယ်ရေးစိတ်ပါ ကျန်းမာလျှက်ရှိစဉ် အောက်ပါ အသိသက်သေများရှေ့မှောက်၌ ပြုလုပ်ချုပ်ဆိုကြခြင်းဖြစ်ပါသည်-

ပေးကမ်းသည့်ပစ္စည်းစာရင်း

ရန်ကုန်မြို့၊ လှိုင်မြို့နယ်၊ MICTDC ဝင်းအတွင်းရှိ အဆောက်အဦအမှတ် ၁၄ ၏ မြေညီထပ်မှ တတိယထပ်ထိအပါအဝင် စုစုပေါင်း လေးလွှာနှင့် ရေ၊ မီး သွယ်တန်းမှုဆိုင်ရာအပါအဝင် ယင်းတို့တွင် တွယ်ကပ်ဆက်ဆင်ထားသည့် အကျိုးခံစားခွင့်အရပ်ရပ်။

အသိသက်သေများ

၁။

လက်မှတ် ------------------

အမည် [illegible]

နိုင်ငံသားစိစစ်ရေးအမှတ် [illegible]

နေရပ်လိပ်စာ [illegible]

၂။ လက်မှတ် ------------------

အမည် [illegible]

နိုင်ငံသားစိစစ်ရေးအမှတ် [illegible]

နေရပ်လိပ်စာ [illegible]

ပေးကမ်းသူ

(Khine Industries ၏ကိုယ်စားလှယ်စာရေးသူ ဒေါ်ခင်စောဝေမှ ၀၃/၁၂/၂၀၁၆ ရက်စွဲပါ ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ လက်မှတ်ရေးထိုးသည်)

ဦးမြဟန်

ပေးကမ်းခြင်းကိုလက်ခံသူ



No.169 (F), Pyay Road, 9-Mile,
Mayangone Township,Yangon Myanmar.
Tel : (951)700 921, 650 455
Email : khine.ak@gmail.com

<u>ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း</u>

| | | |
|---|---|---|
| ကျင်းပသည့်နေ့ | း | ၂.၀၂.၂၀၁၆ |
| ကျင်းပသည့်အချိန် | း | နံနက် (၁၀:၀၀) နာရီ |
| ကျင်းပသည့်နေရာ | း | ကုမ္ပဏီရုံးခန်း |

| | အစည်းအဝေးတက်ရောက်သူများ | ရာထူး | လက်မှတ် |
|---|---|---|---|
| ၁။ | ဒေါ်ခင်စောဝေ | မန်နေဂျင်းဒါရိုက်တာ | (signature) |
| ၂။ | ဒေါ်ထွေးထွေးဝင်း | ဒါရိုက်တာ | (signature) |

<u>အစည်းအဝေးဆုံးဖြတ်ချက်များ</u>

အစည်းအဝေးတွင် မန်နေဂျင်းဒါရိုက်တာ ဒေါ်ခင်စောဝေမှ သဘာပတိအဖြစ်ဆောင်ရွက်ပြီး အောက်ပါတို့ကို ဆွေးနွေးဆုံးဖြတ်ပါသည်။

ရန်ကုန်မြို့ လှိုင်မြို့နယ်၊ MICTDC ဝင်းအတွင်းရှိ အဆောက်အဦ (၁၄)၏ မြေညီထပ်မှ တတိယထပ်ထိအပါအဝင် စုစုပေါင်း လေးလွှာအား ရုံးခန်းဖွင့်လှစ်ဆောင်ရွက်ရန်အတွက် ဦးမြဟန် (Fortune International Limited )သို့ လွှဲပြောင်းပေးရန် ဆွေးနွေးဆုံးဖြတ်ခဲ့ကြပါသည်။

ယနေ့အစည်းအဝေးဆုံးဖြတ်ချက်များကို ကုမ္ပဏီမှတ်ပုံတင်ရုံးသို့ တင်ပြရန်ဆုံးဖြတ်ကြပြီး အစည်းအဝေးအား နေ့လည် (၁၂း၀၀) နာရီအချိန်တွင် အောင်မြင်စွာရုပ်သိမ်းလိုက်ပါသည်။

မှတ်တမ်းတင်သူ

အင်ကြင်းကို

အတည်ပြုသူ

Daw Khin Saw Wai

Managing Director

Khine Industries Co., Ltd

Khine Industries Co., Ltd.




# Myanmar ICT Development Corporation Limited

Myanmar ICT Park , Universities' Hlaing Campus,
Hlaing Township,Yangon, Union of Myanmar.

Tel : (95)-1-652272~74 , 652278~79 Fax : (95)-1-652275
E-mail : operating@mictdc.com.mm Website: http://www.mictdc.com.mm


သို့

သက်ဆိုင်ရာ

စာအမှတ်။ ။၁၈၀ /စီမံ-၂၊၂၀၁၆။

ရက်စွဲ ။ ။၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ(၂၂)ရက်။

အကြောင်းအရာ။ ။ မှန်ကန်ကြောင်း ထောက်ခံခြင်း။

Kh ne Industries Co., Ltd. (Fortune International Limited) သည် MICT Park, Building (14) အား (၂၈-၄-၂၀၁၄) ရက်နေ့တွင် အဆောက်အဦဆောက်လုပ်ခြင်း လုပ်ငန်းများပြီးစီး၍ (၂၉-၄-၂၀၁၄) ရက်မှစ၍ ယင်းအဆောက်အဦတွင် ရုံးခန်းများ ဖွင့်လှစ်ပြီးလုပ်ငန်းများ လုပ်ဆောင်နေပါကြောင်း ထောက်ခံ အပ်ပါသည်။

လေးစားစွာဖြင့်

22/12/16

စိန်ဝင်း

Chief Operating Officer

Myanmar ICT Development Corp., Ltd.

မိတ္တူကို- ရုံးလက်ခံ



**" အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းလုပ်ငန်းသဘောတူကတိစာချုပ် "**
**(မြေပိုင်ရှင် – မြန်မာအင်ဖိုတက် ကော်ပိုရေးရှင်းလီမိတက်(MICTDC)ပိုင် မြေကွက်ပေါ်တွင် အဆောက်အဦဆောက်လုပ်သူ Khine Industries က တာဝန်ယူဆောက်လုပ်မည့် ဖ–ထပ်အဆောက်အဦဆောက်လုပ်ခြင်းလုပ်ငန်း)**

ဤစာချုပ်ကို စာချုပ်ဝင်ပုဂ္ဂိုလ်များက ရန်ကုန်တိုင်းဒေသကြီးတွင် ၂၀၁၁ ခုနှစ်၊ မေလ (  )ရက်နေ့တွင် အောက်ပါအတိုင်း ချုပ်ဆိုကြသည်မှာ -

**စာချုပ်အပိုဒ်–(၁)**

ရန်ကုန်တိုင်းဒေသကြီး၊လှိုင်မြို့နယ်၊တက္ကသိုလ်များလှိုင်နယ်မြေတွင် တည်ရှိသော မြန်မာအင်ဖိုတက်ကော်ပိုရေးရှင်းလီမိတက်(MICTDC) ( နောင်တွင် လုပ်ငန်းအပ်နှံသူ ဟုဆက်လက် ခေါ်တွင်စေရမည်ဖြစ်သည် ) ၎င်း၏ကိုယ်စား (၂ - ၁၀ - ၂၀၁၀ )ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးအောင်ဇော်မြင့်က လက်မှတ်ရေးထိုးသည်။

( ဤစာချုပ်တွင် ဆက်လက်ဖော်ပြသည်မှာ လုပ်ငန်းအပ်နှံသူဟုဆိုရာတွင် လုပ်ငန်းအပ်နှံသူ နှင့် ၎င်း၏ဆက်ခံသူများ၊ တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။ )

တစ်ဖက်နှင့်

ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ မိုးမခလမ်း၊ ၄၄၉/၂၅(အေ)အမှတ်တွင်တည်ရှိသော၊ Khine Industries ( နောင်တွင် လုပ်ငန်းလက်ခံသူ ဟု ဆက်လက် ခေါ်တွင် စေရမည်ဖြစ်သည် )၎င်း၏ကိုယ်စား ( ၃၀ -၁၂ -၂၀၁၀ ) ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် အရ ဒေါ်ခင်စောဝေ က လက်မှတ်ရေးထိုးသည်။

( ဤစာချုပ်တွင် ဆက်လက်ဖော်ပြသည်မှာ လုပ်ငန်းလက်ခံသူဟုဆိုရာတွင် လုပ်ငန်းလက်ခံသူ နှင့် ၎င်း၏ဆက်ခံသူများ၊ တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များပါ ပါဝင်သည်ဟု မှတ်ယူရမည်။ )က အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

**စာချုပ်အပိုဒ်-(၂) အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း၊**

လုပ်ငန်းအပ်နှံသူသည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-( ၂၄၊ ၂၅၊ ၂၆/ကမာရွတ် )၊ လူနေရပ်ကွက်အမှတ်-( ၁၃/က$^{၂}$၊ ၂/က$^{၂}$၊ ၁/ဃ$^{၇/၁}$၊ ၁/င$^{၂}$ )၊ မြေကွက်အမှတ်-(၂/က၊ ၁၀/က၊ ၉/ဆ$^{၁}$၊ ၃/ခ$^{၆-၂}$ )အရ နှစ်(၆၀)ဂရန်မြေ၊ မြေဧရိယာစုစုပေါင်း-( ၂၂.၉၁၂ )ဧကအား ၂၀၀၂ခုနှစ် (မြေငှား)အမှုတွဲအမှတ် လ-၂/ ၂၀၀၂ အရ တရားဝင်ပိုင်ဆိုင်ပါကြောင်းနှင့် ၎င်းတို့အနက်မှ (၁၄၄-ပေ×၆၀-ပေ )အကျယ်ရှိ မြေပေါ်တွင် (၆)ထပ်အဆောက်အဦဆောက်လုပ်ရန် နှင့် ဤစာချုပ်ပါ စည်းကမ်းချက်များအတိုင်း လုပ်ငန်းလက်ခံသူနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းသဘောတူ စာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာ ပေးအပ်ထားကြောင်း အာမခံပါသည်။ လုပ်ငန်းလက်ခံသူမှလည်း အဆိုပါ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပါကြောင်းနှင့် ဤစာချုပ်ပါ စည်းကမ်းချက်များအတိုင်း လုပ်ငန်းအပ်နှံသူနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်းသဘောတူစာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာပေးအပ်ထားကြောင်း အာမခံ ပါသည်။

**စာချုပ်အပိုဒ်-(၃) လုပ်ငန်းအမည်**

မြန်မာအင်ဖိုတက် ကော်ပိုရေးရှင်းလီမိတက်ပိုင် (၁၄၄ပေ×၆၀ပေ)အကျယ်ရှိ မြေကွက်ပေါ်တွင် ၆ထပ်အဆောက်အဦ၊ အာစီအမျိုးအစား ဆောက်လုပ်ခြင်းလုပ်ငန်းနှင့် အကျိုးတူပူးပေါင်း ဆောင်ရွက်ခြင်း လုပ်ငန်းဟုခေါ်ဆိုမည်။

**စာချုပ်အပိုဒ်-(၄) လုပ်ငန်း၏ခန့်မှန်းခြေတန်ဖိုး၊ ကုန်ကျစရိတ်နှင့် တာဝန်**

လုပ်ငန်း၏ခန့်မှန်းခြေတန်ဖိုးသည် ကျပ်သိန်း(၈၀၀၀) ( ကျပ်သိန်းရှစ်ထောင်)ခန့် သတ်မှတ်ပါ သည်။ လုပ်ငန်းတစ်ခုလုံး၏ ကုန်ကျစရိတ်များကို လုပ်ငန်းပြီးစီးသည်အထိ လုပ်ငန်း လက်ခံသူက ကျခံရမည့်အပြင် အောက်ပါလုပ်ငန်းများ၏ ကုန်ကျစရိတ်ကိုလည်း လုပ်ငန်းလက်ခံသူက ကျခံရမည် ဖြစ်ပါသည်။

(၄-၁) လမ်း၊ ကားရပ်နားရန်နေရာ ( Car Parking )၊ လျှပ်စစ်ဓါတ်အားခွဲရုံ၊ အဝီစိတွင်း နှင့် Ground Tank များ၊ Landscaping အစရှိသည့် Infrastructure နှင့်ပတ်သက်သော လုပ်ငန်းများ။

(၄-၂) ဒီဇိုင်းရေးဆွဲခြင်း၊ Soil Test ၊ Survey ၊ လုပ်ငန်းစစ်အင်ဂျင်နီယာထားပေးခြင်း။

**စာချုပ်အပိုဒ်-(၅) ဆောက်လုပ်မည့်အဆောက်အဦပုံစံ**

အလျား(၁၄၄-ပေ×အနံ၆၀-ပေ)ရှိ (၆)ထပ် RC အဆောက်အဦဖြစ်ပါသည်။ (အသေးစိတ် အဆောက်အဦပုံစံကို **"နောက်ဆက်တွဲ(ခ)"** ဖြင့် Detail Drawing များ ပူးတွဲထားပါသည်။ )

**စာချုပ်အပိုဒ်-(၆) အဆောက်အဦပုံစံပြင်ဆင်ခြင်း**

နောက်ဆက်တွဲ(ခ)ပါ ပုံစံအတိုင်းဆောက်လုပ်ရမည်။အတွင်းပိုင်းပြင်ဆင်မှုကို ပြင်ဆင်လိုပါက လုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်။ ပြင်ဆင် မည့်အဆောက်အဦပုံစံနှင့် ပြင်ဆင်ချင်သည့်အကြောင်းအရာများကို (၁)ပတ်အတွင်း လုပ်ငန်းလက်ခံသူက အတိုင်ပင်ခံ အင်ဂျင်နီယာ အဖွဲ့သို့ တင်ပြရမည်။

**<u>စာချုပ်အပိုဒ်-(၇) ညွှန်ကြားချက်ကိုလိုက်နာဆောင်ရွက်ခြင်း</u>**

လုပ်ငန်းလက်ခံသူသည် လုပ်ငန်းကြီးကြပ်ရေးအဖွဲ့ကိုယ်စား လုပ်ငန်းအတိုင်ပင်ခံအင်ဂျင်နီယာ အဖွဲ့က ညွှန်ကြားထားသည့်အတိုင်း လိုက်နာဆောင်ရွက်ရမည်။ လုပ်ငန်းကြီးကြပ်ရေးအဖွဲ့၏ ညွှန်ကြားချက်များသည် ဤစာချုပ်ပါ သဘောတူညီချက်များ၊ သတ်မှတ်စံညွှန်းများအား မဆန့်ကျင် စေရ။

**<u>စာချုပ်အပိုဒ်-(၈) ဆောင်ရွက်ဆဲလုပ်ငန်းများကိုစစ်ဆေးခြင်း</u>**

လုပ်ငန်းဆောင်ရွက်ဆဲကာလအတွင်း လုပ်ငန်းအပ်နှံသူ (သို့) လုပ်ငန်းအပ်နှံသူမှ တာဝန် ပေးသူများက စစ်ဆေးရာတွင် အတည်ပြုပုံစံနှင့် ကိုက်ညီခြင်းမရှိကြောင်း တွေ့လျှင်သော်လည်းကောင်း၊ သတ်မှတ်ထားသည့်စံချိန်စံညွှန်းနှင့်မကိုက်ညီသည့်ပစ္စည်းများသုံးစွဲထားကြောင်း တွေ့လျှင်သော် လည်းကောင်း၊ အင်ဂျင်နီယာနည်းနိသယရည်းများနှင့်ကိုက်ညီစွာ မဆောင်ရွက်ကြောင်း တွေ့လျှင်သော် လည်းကောင်း၊ ပြင်ဆင် ရန် (သို့) ပစ္စည်းများလဲလှယ်သုံးစွဲဆောက်လုပ်စေရန် စာဖြင့် အကြောင်းကြားစာ ပေးပို့မည်ဖြစ်ပြီး ထို ညွှန်ကြားခြင်းကို လုပ်ငန်း လက်ခံသူက မပျက်မကွက်လိုက်နာဆောင်ရွက်ရမည်။ ထိုသို့ ဆောင်ရွက်ခြင်း အတွက် ကုန်ကျသည့် တန်ဖိုးများကို လုပ်ငန်းအပ်နှံသူမှ ထပ်မံသုံးစွဲခြင်းပြုမည်မဟုတ်ဘဲ လုပ်ငန်း လက်ခံသူ၏ ကုန်ကျစရိတ်ဖြင့်သာ ကျခံဆောင်ရွက်ရမည်။

**<u>စာချုပ်အပိုဒ်-(၉) လုပ်ငန်းစတင်ရက်</u>**

အဆောက်အဦ ဆောက်လုပ်ရန် မြေစတင် တူးသည့်ရက် (ပိုင်လုပ်ငန်းစတင်သည့်ရက်)ကို လုပ်ငန်းစတင်ရက်ဟု သတ်မှတ်ပါသည်။ အဆောက်အဦ၏ ပုံစံ၊ အရောင်၊ အမျိုးအစား များအားလုံးကို လုပ်ငန်းအပ်နှံသူမှ သတ်မှတ်ပေးသည့်အတိုင်း ဆောက်လုပ်ရ မည်ဖြစ် သည်။

**<u>စာချုပ်အပိုဒ်-(၁၀) လုပ်ငန်းပြီးဆုံးရက်</u>**

လုပ်ငန်းစတင်သည့်နေ့ရက်မှ (၁)နှစ်နှင့်(၆)လအတွက် လုပ်ငန်းပြီးဆုံးရက်ရေတွက်ခြင်းကို ပိုင်ရိုက်ခြင်းလုပ်ငန်းပြီးဆုံးသည့်နေ့မှ စတင်ရေတွက်သည်။ အကယ်၍ အဆိုပါသတ်မှတ်ရက်တွင် လုပ်ငန်းမပြီးပါက လုပ်ငန်းအပ်နှံသူ၏ နစ်နာမှုကို အောက်ပါအတိုင်း ပေးလျော်ရမည်ကို လုပ်ငန်း လက်ခံသူကသိရှိဝန်ခံကတိပြုပါသည်။

(က) နောက်တိုးကာလ ပထမ (၆)လအတွက် တစ်လလျှင် ကျပ် ၃၀၀,၀၀၀/- နှုန်း

(ခ) နောက်တိုးကာလ ဒုတိယ (၆)လအတွက် တစ်လလျှင် ကျပ် ၃၅၀,၀၀၀/- နှုန်းများဖြင့် မြန်မာအင်ဖိုတက်သို့ ပေးအပ်ရမည့်အခန်းများမှ ကျန်ရှိအခန်းများအား တန်ဖိုး သတ်မှတ်ရန်ဖြစ်သည်။

**မှတ်ချက်** ။ ။ အကယ်၍ အထက်အပိုဒ်-၁၀(ခ)အရ နောက်တိုးကာလ ဒုတိယ (၆)လအတွင်း လုပ်ငန်းလက်ခံသူမှ လုပ်ငန်းမပြီးနိုင်ပါက လုပ်ငန်းအားလုံးကို လုပ်ငန်းအပ်နှံသူဘက်မှ တစ်ဘက်သတ်ပြန်လည်လွှဲပြောင်းရယူပိုင်ခွင့်ရှိမည် ဖြစ်ပါသည်။ ယင်းသို့သော အခြေအနေတွင် ဆောင်ရွက်ပြီးသည့်အခြေအနေအထိ တန်ဘိုးကို လုပ်ငန်းအပ်နှံသူမှ သတ်မှတ်ပေးချေသည့်အစီအစဉ်အတိုင်း လုပ်ငန်းလက်ခံသူမှ ရယူပါမည်ဟု ဝန်ခံ ကတိပြုပါသည်။

**<u>စာချုပ်အပိုဒ်-(၁၁) ဆိုင်းငံ့ကာလ</u>**

မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်လည်းကောင်း၊ မမျှော်မှန်းနိုင်သောသဘာဝဘေးအန္တရာယ်ကြောင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်ရန်အခက်အခဲဖြစ်ပါက ထိုပုဂ္ဂိုလ်ဘက်မှ အခြား တဘက်သို့ (၁၄)ရက်အတွင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ ထိုကာလအတွက် ဆိုင်းငံ့ကာလ သတ်မှတ် ရန်နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

**<u>စာချုပ်အပိုဒ်-(၁၂) ပျက်စီးဆုံးရှုံးမှုများ</u>**

လုပ်ငန်းတည်ဆောက်ဆဲကာလအတွင်း အကြောင်းတစ်စုံတစ်ရာကြောင့် ဖြစ်ပေါ်လာသော ပျက်စီးဆုံးရှုံးမှုအတွက် လုပ်ငန်းလက်ခံသူတွင် တာဝန်ရှိသည်။ အစိုးရအသိအမှတ်ပြု အာမခံ လုပ်ငန်းတွင် ဤစာချုပ်ပါလုပ်ငန်းအတွက် အာမခံထားရန် လိုအပ်ပါက လုပ်ငန်းလက်ခံသူမှ တာဝန်ယူ ဆောင်ရွက်ရမည်။ ပျက်စီးဆုံးရှုံးမှုများအား စံချိန်စံညွှန်းနှင့်အညီ ပြန်လည်ပြုပြင် တည်ဆောက်ရသည့် ကုန်ကျစရိတ်ကို လုပ်ငန်းလက်ခံသူမှ ကျခံရမည်။

**စာချုပ်အပိုဒ်-(၁၃) အာမခံထားရှိခြင်း**

လုပ်ငန်းလက်ခံသူမှ မိမိ၏စရိတ်ဖြင့် လုပ်ငန်းတည်ဆောက်ဆဲကာလတွင် လုပ်ငန်းနှင့် ဝန်ထမ်းများအတွက် အာမခံထားရှိနိုင်သည်။ ထို့အတူ အဆောက်အဦပြီးစီးချိန် လုပ်ငန်း လည်ပတ်နေစဉ်ကာလတွင် အဆောက်အဦ၊ အသုံးအဆောင်၊ ဝန်ထမ်းများအတွက် လိုအပ်သော အာမခံထားရှိမှုကို မိမိအစီအစဉ်ဖြင့် ဆောင်ရွက်နိုင်သည်။

**စာချုပ်အပိုဒ်-(၁၄) ရှေးဟောင်းပစ္စည်းများနှင့်အဖိုးတန်ပစ္စည်း**

လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေကွက်ကိုတူးဖော်ခြင်း၊ အုတ်မြစ်ချခြင်းများ ပြုလုပ်ရာတွင် ရှေးဟောင်းပစ္စည်းများ၊ စိန်၊ ရွှေ၊ ငွေ၊ ကျောက်သံ၊ ပတ္တမြားစသော အဖိုးတန်ရတနာများ၊ ရေနံ၊ ဓါတ်သတ္တု ပစ္စည်းများကို တွေ့ရှိပါက သက်ဆိုင်ရာသို့ မချွင်းမချန် ပေးအပ်ရန် လုပ်ငန်းလက်ခံသူက တာဝန်ယူသည်။ အကယ်၍ ရေနံ၊ ဓါတ်ငွေ့၊ ရတနာသိုက်၊ သတ္တု၊ ကျောက်မီးသွေး၊ စသည်တို့ကို တွေ့ရှိပြီး၊ စီးပွားဖြစ်လုပ်ငန်း လုပ်ကိုင်နိုင်မည့်အနေအထားရှိပါက လုပ်ငန်းအပ်နှံသူက ထိုနေရာကို ပြန်လည်ရယူပြီး၊ အခြားသင့်တော်သော နေရာတွင် အစားထိုးချထားပေးမည်။

**စာချုပ်အပိုဒ်-(၁၅) အကျိုးအမြတ်ခွဲဝေစားခြင်း**

လုပ်ငန်းအပ်နှံသူနှင့် လုပ်ငန်းလက်ခံသူတို့သည် အခန်းပေးအခန်းယူစနစ်ကိုအခြေခံ၍ နောက်ဆက်တွဲ(ဃ)ဖြင့် ဖော်ပြထားသည့်အတိုင်း အခန်းများကို ခွဲဝေယူကြမည်ဖြစ်ပါသည်။

**စာချုပ်အပိုဒ်-(၁၆) အကျိုးအမြတ်ခွဲဝေစားရန်နည်းလမ်း**

အကျိုးအမြတ်ခွဲဝေစားနိုင်ရန် အောက်ပါနည်းလမ်းများကို ကျင့်သုံးမည်။

(က) အကျိုးအမြတ်ခွဲဝေမှုအရ အဆောက်အဦဆောက်လုပ်ပြီးစီးပါက အဆောက်အဦ ရေိယာ၏ (၃)ပုံ(၁)ပုံဖြစ်သော အပေါ်ဆုံးလွှာ (၂)လွှာကို လုပ်ငန်းအပ်နှံ သူမှ ရရှိခံစားမည် ဖြစ်သည်။ တစ်လွှာလျှင် နောက်ဆက်တွဲပါ Detail Drawing များအတိုင်း အခန်း(၆)ခန်း နှင့် Toilet ခန်း (၂)ခန်း ပါရှိရမည်။မြေညီထပ်မှ တတိယအလွှာအထိ လေးလွှာကို လုပ်ငန်း လက်ခံသူက ရရှိခံစားမည်ဖြစ်သည်။ လုပ်ငန်းအပ်နှံသူမှ ရရှိမည့် (၆)ထပ် အဆောက်အဦ၏ အပေါ်ဆုံး (၂)လွှာအား အခန်း၊ တံခါး၊ မျက်နှာကျက်၊ ရေ မီး၊ Toilet များအား ပူးတွဲပါ နောက်ဆက်တွဲ(င)ဖြင့် ဖော်ပြထား သည့်အတိုင်း ဆောက်လုပ်တပ်ဆင်ပေးရမည် ဖြစ်သည်။ သို့ရာတွင် မိမိ၏လုပ်ငန်း အသုံးစရိတ်အခွန်အခများ၊ ပြင်ဆင်စရိတ်များ အားမိမိကျခံရန်။

(ခ) အဆောက်အဦဆောက်လုပ်ပြီးစီးပါက လုပ်ငန်းအပ်နှံသူနှင့် လုပ်ငန်းလက်ခံသူတို့ ရရှိမည့် အခန်းများကို အငှားချထားနိုင်သည်။ ( IT နှင့်ပတ်သက်သော လုပ်ငန်းများကိုသာ လုပ်ဆောင်ရမည်ဖြစ်ပါသည်။ )

(ဂ) အဆောက်အဦများသည် ရုံးခန်းဖွင့်လှစ်လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက်သာဖြစ်ပြီး၊ လူနေထိုင်ခွင့်မရှိပါ။

(ဃ) အဆောက်အဦများ ဆောက်လုပ်ပြီးစီး၍ ရုံးခန်းများ စတင်ဖွင့်လှစ်လုပ်ကိုင် ဆောင် ရွက်သည့် အချိန်မှစ၍ သာယာရေးကော်မတီမှ သတ်မှတ်ထားသော စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာကျင့်သုံးရမည်။

(င) လုပ်ငန်းအပ်နှံသူက လုပ်ငန်းပြီးစီးကြောင်း စစ်ဆေးလက်ခံပြီးမှသာ အခန်းများအား တရားဝင် လက်ရောက်လွှဲပြောင်း ရယူမည်ဖြစ်သည်။ လုပ်ငန်းလက်ခံသူ အကျိုးခံစားခွင့် ရရှိသည့် အခန်းများသည် စာချုပ်နှစ်ကာလ အတွင်းလုပ်ငန်းလက်ခံသူ၏ စီမံခန့်ခွဲမှုနှင့် အကျိုးခံစားမှု လုံးဝရှိစေရမည်။

**စာချုပ်အပိုဒ်-(၁၇) စာချုပ်ပါအကြောင်းအချက်များကိုပြင်ဆင်ဖြည့်စွက်ခြင်း**

စာချုပ်ပါ အကြောင်းအချက်များ (သို့) စည်းကမ်းချက်များကို ပြင်ဆင်ဖြည့်စွက်ရန် အကြောင်းပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့်သာ ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ပြင်ဆင် ဖြည့်စွက်ချက်ကို စာနှင့်ရေးသား၍ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးရမည်။

**စာချုပ်အပိုဒ်-(၁၈) လုပ်ငန်းလက်ခံသူ၏ချွတ်ယွင်းပျက်ကွက်မှု**

လုပ်ငန်းအတိုင်ပင်ခံအင်ဂျင်နီယာအဖွဲ့၏ တင်ပြချက်အရ လုပ်ငန်းလက်ခံသူ၏ ချွတ်ယွင်း ပျက်ကွက်မှုကြောင့် လုပ်ငန်းကိုဆက်လက်ဆောင်ရွက်နိုင်စွမ်းမရှိလျှင်သော်လည်းကောင်း၊ လုပ်ငန်း တိုးတက်မှု မရှိလျှင်သော်လည်းကောင်း၊ စာချုပ်ပါစည်းကမ်းဖောက်ဖျက်လျှင်သော်လည်းကောင်း၊ လုပ်ငန်း ကြီးကြပ်ရေးအဖွဲ့၊ အတိုင်ပင်ခံအဖွဲ့တို့က ပြင်ဆင်ဖြည့်စွက်ဆောင်ရွက်ရန် ညွှန်ကြားချက်ကို မလိုက်နာ လျှင်သော်လည်းကောင်း ပြင်ဆင်ဆောင်ရွက်ရန် လုပ်ငန်းအပ်နှံသူမှ လုပ်ငန်းလက်ခံသူထံ ဦးစွာ အကြောင်းကြားစာ ပေးပို့ရမည်။ ထိုသို့ အကြောင်းကြားစာပေးပို့ပြီးနောက် ဆက်လက်ပျက်ကွက် ချို့ယွင်းမှု ရှိလျှင် ဆောင်ရွက်ဆဲလုပ်ငန်းတစ်ခုလုံးကို လုပ်ငန်းအပ်နှံသူက သိမ်းယူပြီး ဆက်လက်ဆောင်ရွက်မည်ဖြစ်သည်။ ထိုသို့ဆောင်ရွက်သည့်အတွက် လုပ်ငန်းလက်ခံသူသို့ လျော် ကြေးငွေ တစ်စုံတစ်ရာပေးရန် တာဝန်မရှိကြောင်း သဘောတူညီကြပါသည်။ အလားတူ လုပ်ငန်း အပ်နှံသူ၏ ပျက်ကွက်မှု၊ ချို့ယွင်းမှု၊ အကောင်အထည်မဖော်နိုင်မှု၊ ဤသဘောတူ စာချုပ်ကို ဖောက်ဖျက်မှု၊ တစ်စုံတစ်ရာ အနှောင့်အယှက်ကြောင့် လုပ်ငန်းနှောင့်နှေးခြင်း၊ မဆောင်ရွက်နိုင်ခြင်း ရှိလာပါက လုပ်ငန်းလက်ခံသူ၏ ကုန်ကျစရိတ်နှင့်တကွ နစ်နာကြေးကိုပါ လုပ်ငန်းအပ်နှံသူက ပေးဆောင်ရ မည် ဖြစ်ပါသည်။

**စာချုပ်အပိုဒ်-(၁၉) ဆက်လက်ဆောင်ရွက်သည့်လုပ်ငန်းအတွက်ကုန်ကျစရိတ်**

မပြီးဆုံးသေးသောလုပ်ငန်း၏ ဆောင်ရွက်ရန် ကျန်သည့်လုပ်ငန်းကို လုပ်ငန်းအပ်နှံသူက ပြီးဆုံးသည်အထိ ဆောင်ရွက်ရသည့်အတွက် နစ်နာမှုများရှိလာပါက နစ်နာကုန်ကျသည့်စရိတ်များနှင့် ငွေရမ်းခများကို လုပ်ငန်းလက်ခံသူက ကျခံရမည်။ ထိုသို့ ကျခံပြီး လုပ်ငန်းပြီးဆုံးခဲ့လျှင် ဤစာချုပ် အပိုဒ်(၁၅)ပါ အခွင့်အရေးများအတိုင်း လုပ်ငန်းလက်ခံသူမှ ဆက်လက်ခံစားနိုင်သည်။

**စာချုပ်အပိုဒ်-(၂၀) အလုပ်သမားများ၏အခွင့်အရေး**

လုပ်ငန်းခွင်တွင်အလုပ်လုပ်ကြမည့် အလုပ်သမားအားလုံး၏ အခွင့်အရေးအားလုံး ( ဥပမာ-လုပ်ငန်းခွင်ထိခိုက်ဒဏ်ရာရရှိမှုများ၊ သေဆုံးမှုများအတွက် လိုအပ်သော အာမခံကိစ္စရပ်များ ) နှင့် စည်းကမ်း ထိန်းသိမ်းရေးကိစ္စအားလုံးကို လုပ်ငန်းလက်ခံသူမှ တာဝန်ယူရမည်။

**စာချုပ်အပိုဒ်-(၂၁) ပျက်စီးမှုများ**

ဆောက်လုပ်ပြီး အဆောက်အဦများကို လွှဲပြောင်းလက်ခံပြီးသည့်နေ့မှ (၆)လအတွင်း ပေါ်ပေါက်လာသော စံချိန်စံညွှန်းမမှီသည့် ပျက်စီးမှုများကို လုပ်ငန်းလက်ခံသူက စရိတ်ကျခံ၍ စံချိန်စံညွှန်းမှီသည်အထိ ပြန်လည်ပြင်ဆင်ပေးရန် တာဝန်ယူရမည်။ ထို့အတူ ချို့ယွင်းမှု၊ ယုတ်လျော့မှုများကိုလည်း စာချုပ်သက်တမ်းကုန်သည်အထိ (အချိုးကျ)ဆက်လက်ပြုပြင်ရမည်။

